(မနသ-၂)
စာအမှတ် ၉၆၁၇-၇
နေ့စွဲ ၇.၂.၂၀၀၂

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-....၁၃၁..../၂၀၀၂။ ၂၀၀၂ ခုနှစ်၊ ဖေဖော်ဝါရီ လ ၇ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ....ဦး လောဒီ........................................

(ခ) အဘအမည် ဦး ဟေ ရွှေဘိုသီ........................................

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ...၁၃/ကခန(နိုင်)၀၃၂၁၃၅..........

(ဃ) နေရပ်လိပ်စာ ..အမှတ်-က/ရ-၂၊ အနော်ရထာအိမ်ယာ ၁၊ ပြည်လမ်း........ ကမာရွတ်မြို့နယ်၊ ရန်ကုန်။........................................

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း လင်းအောင်အင်ဒတ်စထရီရယ် အင်(န်) ပရိုဒတ်ရှင်းကုမ္ပဏီလီမိတက် (Lin Aung Industrial & Production Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ...(၂၅) တန်ကျ ရေခဲစက်နှင့် တန် (၁၀၀) ဆန့်အအေးခန်းတည်ဆောက်၍ ငါး၊ ပုဇွန်ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း ။

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ လင်းသာကျေးရွာ ကွင်းအမှတ် (၂၀၅) က၊ ငှက်ပျောချောင်းမြေလွတ်ကွင်း ဦးပိုင်အမှတ် (၂၅/ဃ၊ ၂၆/ခ)

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၂၁၀.၁၅ သန်းခန့် (ကျပ်သန်းနှစ်ရာတစ်ဆယ်နှင့် တစ်သိန်းငါးသောင်းခန့်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၄ /၂၀၀၂ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၃ ခုနှစ်၊ ပြာသိုလပြည့်ကျော် ၈ ရက်
(၂၀၀၂ ခုနှစ်၊ ဖေဖော်ဝါရီလ ၅ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော လင်းအောင် အင်ဒတ်စထရီရယ် အင်(န်)ပရိုဒတ်ရှင်း ကုမ္ပဏီ လီမိတက် (Lin Aung Industrial & Production Co., Ltd.) မှ ကုမ္ပဏီအမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ ဦးပိုင်အမှတ်၊ ၂၅/ဃ၊ ၂၆/ခ၊ ငှက်ပျောချောင်းမြေလွတ်ကွင်း၊ ကွင်းအမှတ် (၂၀၅) က၊ လင်းသာ ကျေးရွာရှိ သံတွဲခရိုင် အထွေထွေအုပ်ချုပ်ရေး ဦးစီးဌာနမှ အငှါးဂရန်ချပေးထားသော မြေ(၃.၈၆)ဧက (၁၅၆၂၀.၈၈ စတုရန်းမီတာ)တွင် (၂၅)တန်ကျ ရေခဲစက်နှင့် တန် (၁၀၀)ဆန့် အအေးခန်းစက်ရုံ တည်ဆောက်၍ ငါး၊ ပုစွန် ပြုပြင် ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၇–၁၂–၂၀၀၁) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၄၁/၂၀၀၁) အစည်းအဝေးသို့ တင်ပြ ခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၃–၁–၂၀၀၂)နေ့တွင် ကျင်းပပြုလုပ်သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၁/၂၀၀၂) အစည်းအဝေးသို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ (၂၄–၁–၂၀၀၂)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၄/၂၀၀၂) အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် လင်းအောင် အင်ဒတ်စထရီရယ် အင်(န်)ပရိုဒတ်ရှင် ကုမ္ပဏီ လီမိတက် (Lin Aung Industrial & Production Co., Ltd.) အား (၂၅)တန်ကျ ရေခဲစက်နှင့် တန် (၁၀၀)ဆန့် အအေးခန်းစက်ရုံ တည်ဆောက်၍ ငါး၊ ပုစွန် ပြုပြင် ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ– ၅၃၁/၂၀၀၂ ကို ထုတ်ပေး လိုက်သည်။

၂။ လင်းအောင် အင်ဒတ်စထရီရယ် အင်(န်)ပရိုဒတ်ရှင်း ကုမ္ပဏီ လီမိတက် (Lin Aung Industrial & Production Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ လုပ်ငန်းစတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(ခ)အရ အဆိုပြု လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်(၃)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြ လျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်းပြည်ပ ဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော်ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့တင်ပြလျှောက်ထား ရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေကို သတ်မှတ် သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ လင်းအောင် အင်ဒတ်စထရီရယ် အင်(န်)ပရိုဒတ်ရှင်း ကုမ္ပဏီ လီမိတက် (Lin Aung Industrial & Production Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက် ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ်ထားရှိ ဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၄။ လင်းအောင် အင်ဒတ်စထရီရယ် အင်(န်)ပရိုဒတ်ရှင်း ကုမ္ပဏီ လီမိတက် (Lin Aung Industrial & Production Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက် ၍သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၆။ လင်းအောင် အင်ဒတ်စထရီရယ် အင်(န်)ပရိုဒတ်ရှင်း ကုမ္ပဏီ လီမိတက် (Lin Aung Industrial & Production Co., Ltd.)မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့် အညီ ဤ ကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမား များခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။

၇။ လင်းအောင် အင်ဒတ်စထရီရယ် အင်(န်)ပရိုဒတ်ရှင်း ကုမ္ပဏီ လီမိတက် (Lin Aung Industrial & Production Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ တင်ပြရမည်။ ပတ်ဝန်းကျင် အနံ့ဆိုးများ ဖြစ်ပေါ်စေပြီး ပတ်ဝန်းကျင် ညစ်ညမ်းမှုဖြစ်ပါက စက်ရုံပိတ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၈။ လင်းအောင် အင်ဒတ်စထရီရယ် အင်(န်)ပရိုဒတ်ရှင်း ကုမ္ပဏီ လီမိတက် (Lin Aung Industrial & Production Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေ များကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လတစ်ကြိမ် (ဧပြီ/ အောက်တိုဘာလများ) မပျက်မကွက် ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင် ခံရမည်။

၉။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၁၀။ လင်းအောင် အင်ဒတ်စထရီရယ် အင်(န်)ပရိုဒတ်ရှင်း ကုမ္ပဏီ လီမိတက် (Lin Aung Industrial & Production Co., Ltd.)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်ခြင်းမရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

( ဦးသောင်း )
ဥက္ကဋ္ဌ

စာအမှတ်၊ ရက–၁/မ–၇၇၄/၂၀၀၁ (၉၆၁၇ – ဂ)
ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ ဖေဖော်ဝါရီလ ၅ ရက်။

ဖြန့်ဝေခြင်း–
၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ ရခိုင်ပြည်နယ်၊ အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၅။ ကာကွယ်ရေး ဝန်ကြီးဌာန၊ တပ်မတော် ထောက်လှမ်းရေး ဌာနချုပ်ရုံး၊ (ပြည်တွင်း ထောက်လှမ်းရေးဌာန)။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၂။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၃။ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန။
၁၄။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။
၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၅။ ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့် ရေလုပ်ငန်း ညွှန်ကြားမှု ဦးစီးဌာန။
၂၆။ ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်း ဦးစီးဌာန။
၂၇။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၂၈။ အုပ်ချုပ်မှု ဒါရိုက်တာ၊ လင်းအောင် အင်ဒတ်စထရီရယ် အင်(န်)ပရိုဒတ်ရှင်း ကုမ္ပဏီ လီမိတက် (Lin Aung Industrial & Production Co., Ltd.)။